# ISE-OVO Company Limited မှ တင်ပြသည့် အဆိုပြုလွှာနှင့် စပ်လျဉ်း၍ လုပ်ငန်းဆောင်ရွက်မှုမှတ်တမ်း

## ဥစားမျိုးကြက်မွေးမြူခြင်းနှင့် ကြက်ဥနှင့် ကြက်သားပေါက် ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်း

| စဉ် | ဆောင်ရွက်သည့်အကြောင်းအရာ | ဆောင်ရွက်သည့်ရက်စွဲ | အကြောင်းပြန်ကြားသည့်ရက်စွဲ/ ကုမ္ပဏီမှတင်ပြသည့်ရက်စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | ရန်ကုန်တိုင်းဒေသကြီး ဦးစီးမှူးရုံးမှ အတည်ပြုလျှောက်ထားလွှာ လွှဲပြောင်းပေးပို့ခြင်း | | ၈-၈-၂၀၁၉ | |
| ၂ | အဆိုပြုလျှောက်ထားလွှာ တင်ပြလာခြင်း | | ၁၅-၈-၂၀၁၉ | |
| ၃ | လုပ်ငန်း လိုအပ်ချက်အရ သက်ဆိုင်ရာဝန်ကြီးဌာနများသို့သဘောထား တောင်းခံခြင်း<br>- စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန | ၂၇-၈-၂၀၁၉ | ၉-၉-၂၀၁၉ | |
| | - စက်မှုဝန်ကြီးဌာန | ၂၇-၈-၂၀၁၉ | ၁၀-၉-၂၀၁၉ | |
| | - ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့ရုံး | ၂၇-၈-၂၀၁၉ | ၂၃-၉-၂၀၁၉ | |
| | - ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး | ၂၆-၇-၂၀၁၉ | ၂-၈-၂၀၁၉ | |
| ၄ | အဆိုပြုချက်စိစစ်ရေးအဖွဲ့ အစည်းအဝေးသို့ တင်ပြခြင်း | ၂၉/၂၀၁၉ (၂၆-၈-၂၀၁၉) | | |
| ၅ | အဆိုပြုချက်အားလက်ခံကြောင်း ပြန်ကြားခြင်း | ၂၉-၈-၂၀၁၉ | | |
| ၆ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်းအဝေးဆုံးဖြတ်ချက်အရ ပြင်ဆင်တင်ပြရန်အကြောင်းကြားခြင်း | ၃-၉-၂၀၁၉ | | |
| ၇ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်းအဝေးဆုံးဖြတ်ချက်အရ ကုမ္ပဏီမှ ပြင်ဆင် တင်ပြခြင်း | ၉-၉-၂၀၁၉ | | |
| ၈ | အဆိုပြုချက်အား ကော်မရှင်အစည်းအဝေးသို့ တင်ပြခြင်း | ၁၆/၂၀၁၉<br>၂၇-၉-၂၀၁၉ | | |
| | စုစုပေါင်းကြာမြင့်ရက် | (၄၃) ရက် | | |

# အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ဆွေးနွေးချက်၊ ဆုံးဖြတ်ချက်အပေါ် ဆောင်ရွက်ပြီးစီးမှု

ကုမ္ပဏီအမည် ISE-OVO Company Limited

လုပ်ငန်းအမျိုးအစား ဥစားမျိုးကြက်မွေးမြူခြင်းနှင့် ကြက်ဥနှင့် ကြက်သားပေါက် ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်း

PATအကြိမ်/နေ့စွဲ ၂၉/၂၀၁၉ (၂၆-၈-၂၀၁၉)

| စဉ် | အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ဆုံးဖြတ်ချက်အပေါ် ပြင်ဆင်ရန် အချက်များ | ဆောင်ရွက်ပြီးစီးမှု<br>ပြီး ✓<br>မပြီး X | မှတ်ချက် |
|---|---|---|---|
| ၁ | လုပ်ငန်းအမျိုးအစား ပြင်ဆင်တင်ပြရန်။ | ✓ | |
| ၂ | သွင်းမည့် ဆေးအမျိုးအစားကို နှစ်စဉ်ဖော်ပြရန်။ | ✓ | |
| ၃ | မြေငှားစာချုပ်နှင့် JV Agreement ကို ပြန်လည်စိစစ်ရန်။ | ✓ | |

အကြောင်းအရာ။ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ISE-OVO Company Limited မှ ဥစား မျိုးကြက်မွေးမြူခြင်းနှင့် ကြက်ဥနှင့် ကြက်သားပေါက် ထုတ်လုပ် ရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်း ကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/<br>ရင်းနှီးမြှုပ်နှံသူ | - ISE-OVO Company Limited |
| | ရင်းနှီးမြှုပ်နှံမှုပုံသဏ္ဌာန် | - ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု<br>OVO Co., Ltd. (မြန်မာနိုင်ငံ) ၅၅ %<br>ISE ASEAN, INC. (ဂျပန်နိုင်ငံ) ၄၅% |
| | လုပ်ငန်းအမျိုးအစား | - ဥစား မျိုးကြက်မွေးမြူခြင်းနှင့် ကြက်ဥနှင့် ကြက်သားပေါက် ထုတ်လုပ် ရောင်းချခြင်း လုပ်ငန်း (Layer Breeder Farm and Sales of Chicken and Egg) |
| ၂။ | တည်နေရာ | - ဦးပိုင်အမှတ် (၁၅/၂)၊ ကွင်းအမှတ် (၉၉၈-အေ)၊ မကျီးကန်ကွင်း၊ ကလီထော်အရှေ့ကျေးရွာအုပ်စု၊ ဦးပိုင်အမှတ် (N-၂)၊ ကွင်းအမှတ် (၉၆၄)၊ ရွာသစ်ကွင်း၊ ကလီထော်အနောက်ကျေးရွာအုပ်စု၊ လှည်းကူးမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး |
| ၃။ | မြေအသုံးပြုခွင့် ရရှိသူ | - ဦးညွန့်တင် |
| | မြေအမျိုးအစား | - ဦးပိုင်အမှတ် (၁၅/၂)၊ လယ်ယာမြေ<br>- ဦးပိုင်အမှတ် (N-၂)၊ မြေလွတ်၊ မြေလပ်နှင့် မြေရိုင်း |
| | မြေအကျယ်အဝန်း | - ဦးပိုင်အမှတ် (၁၅/၂)ရှိ မြေရိယာ (၇.၈)ဧက နှင့် ဦးပိုင်အမှတ် (N-၂)ရှိ မြေရိယာ(၃၀.၀၆)ဧကအနက်မှ (၁၅)ဧက<br>- စုစုပေါင်း မြေ ၂၂.၈ ဧက (၉၂၂၆၈.၃၂ စတုရန်းမီတာ) |
| ၄။ | နှစ်စဉ် မြေငှားရမ်းခ | - ဦးပိုင်အမှတ် (၁၅/၂)အတွက် တစ်စတုရန်းမီတာလျှင် US$ ၀.၄၇ နှုန်းဖြင့် ၃၁,၅၆၅.၅ စတုရန်းမီတာ(၇.၈ ဧက)အတွက် US$ ၁၄,၈၂၀<br>- ဦးပိုင်အမှတ် (N -၂)အတွက် တစ်စတုရန်းမီတာလျှင် US$ ၀.၄၇ နှုန်းဖြင့် ၆၀,၇၀၂.၈ စတုရန်းမီတာ (၁၅ ဧက)အတွက် US$ ၂၈,၅၀၀ |

| | | |
|---|---|---|
| | မြေ ၄ားရမ်း အသုံးပြုခွင့် သက်တမ်း | - ကနဦး ၂၀ နှစ် |
| ၅။ | ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့်သက်တမ်း | - ကနဦး ၂၀ နှစ် |
| | တည်ဆောက်မှုကာလ/ ပြင်ဆင်မှုကာလ | - ၃ နှစ် |
| ၆။ | စုစုပေါင်းမတည်ငွေရင်း ထည့်ဝင်သည့်အမျိုးအစား | **- အမေရိကန်ဒေါ်လာ ၅.၀၀၀ သန်း** |

| | | ပြည်ပ (US$/သန်း) | ပြည်တွင်း (US$/သန်း) | စုစုပေါင်း (US$/သန်း) |
|---|---|---|---|---|
| (က) | ငွေသား | ၀.၈၂၃ | ၀.၂၂၇ | ၁.၀၅၀ |
| (ခ) | စက်ပစ္စည်းနှင့် စက်ကိရိယာများ (ပြည်ပ) | ၁.၄၂၇ | | ၁.၄၂၇ |
| (ဂ) | မြေငှားရမ်းခ (၂၀ နှစ်) | | ၀.၈၆၆ | ၀.၈၆၆ |
| (ဃ) | အဆောက်အဦ ကုန်ကျစရိတ် | | ၁.၆၅၇ | ၁.၆၅၇ |
| | စုစုပေါင်း | ၂.၂၅၀ | ၂.၇၅၀ | ၅.၀၀၀ |

| | | |
|---|---|---|
| ၇။ | ဝန်ထမ်းအင်အား | - ၈၂ ဦး |
| | ပြည်တွင်း | - ၈၀ ဦး( အနိမ့်ဆုံးလစာမှာ ကျပ် ၁၅၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ကျပ် ၅၀၀,၀၀၀ ဖြစ် ပါသည်။) |
| | ပြည်ပ | - ၂ ဦး(လစာမှာ US$ ၁,၅၀၀ ဖြစ်ပါသည်။) |
| ၈။ | ရောင်းချမည့်စနစ် | - ပြည်တွင်း ၁၀၀ % |
| | ထုတ်လုပ်မှု(ပုံမှန်နှစ်) | |

| စဉ် | အမျိုးအစား | အရေအတွက် (kg) | ရောင်းချမည့် ဈေးနှုန်း (ကျပ်/ kg) |
|---|---|---|---|
| (က) | Eggs (ISE-OVO Brand) | ၁၅၇,၅၀၀ | ၂,၀၇၀ |
| (ခ) | Eggs (ISE Brand) | ၂၃,၄၃၈ | ၂,၈၂၀ |
| (ဂ) | Chicken | ၃၉၁ | ၁,၉၀၀ |
| (ဃ) | Baby Chicken | ၇၀၀,၀၀၀ | ၁,၁၃၀ |
| (င) | Chicken Manure (Raw) | ၁,၉၄၉,၀၀၀ | ၅၅ |

| | | |
|---|---|---|
| ၉။ | လျှပ်စစ်ဓါတ်အားသုံးစွဲမှု (နှစ်စဉ်) | - ၃၉၄,၂၀၀ kWh |
| ၁၀။ | အခြားတင်ပြချက် | - မြေအထောက်အထားအဖြစ် ဦးညွန့်တင်အမည်ဖြင့် ဦးပိုင်အမှတ် (၁၅/၂)ရှိ မြေဧရိယာ (၇.၈)ဧကအား ရန်ကုန်တိုင်းအေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီမှ စိုက်ပျိုးမွေးမြူရေးမြေအဖြစ် လယ်ယာမြေကို သတ်မှတ်သည့် နည်းလမ်းအတိုင်း အသုံးပြုခွင့် အမိန့်စာအား လည်းကောင်း၊ ဦးပိုင်အမှတ်(N-၂)ရှိ မြေဧရိယာ(၃၀.၀၆) ဧကအား မြေလွတ်၊ မြေလပ်နှင့် မြေရိုင်းများ စီမံခန့်ခွဲရေး ဗဟိုကော်မတီမှ မွေးမြူရေးလုပ်ငန်း အတွက် အသုံးပြုခွင့်ပေးသော ခွင့်ပြုမိန့်အား လည်းကောင်း တင်ပြထားပါသည်။<br>- မြေပိုင်ရှင် ဦးညွန့်တင်နှင့် ISE-OVO Co., Ltd. တို့ချုပ်ဆိုမည့် မြေငှား စာချုပ်(မူကြမ်း) များ၊ မြေအထောက်အထားများနှင့် Layout Plan တို့ကိုတင်ပြထားပါသည်။<br>- ISE ASIA, INC., နှင့် OVO Co., Ltd. တို့ချုပ်ဆိုထားသည့် ဖက်စပ် စာချုပ်အားတင်ပြထားပါသည်။<br>- ISE ASIA, INC. အမည်မှ ISE ASEAN, INC. အမည်သို့ ပြောင်းသည့် အမည်ပြောင်းထောက်ခံချက် တင်ပြထားပါ သည်။<br>- ငွေကြေးအထောက်အထားအဖြစ် မြန်မာနိုင်ငံရှိ မြန်မာ့နိုင်ငံခြား ကုန်သွယ်မှုဘဏ်တွင် ISE-OVO Co., Ltd. အမည်ဖြင့် US$ ၁၀၀,၀၀၀ ရှိကြောင်း ဘဏ်အထောက်အထား တင်ပြထား ပါသည်။<br>- ဝန်ထမ်းသက်သာ ချောင်ချိရေးအစီအစဉ်၊ မီးဘေးကြိုတင်ကာကွယ်ရေး စီမံချက်၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေး အစီအစဉ်၊ Waste Water Treatment Plant ၏ Diagram ၊ ဝင်ငွေခွန်ပေးဆောင်မည့် အစီအစဉ်နှင့် CSR Project တို့ကို တင်ပြထားပါသည်။<br>- OVO Co., Ltd. ကုမ္ပဏီ မှတ်ပုံတင် မိတ္တူနှင့် ISE ASEAN, INC. ၏ Certificate of Complete Historical Records များ တင်ပြထားပါသည်။<br>- စက်ပစ္စည်း တန်ဖိုး US$ ၁.၄၂၇ သန်းတင်သွင်းမည်ဖြစ်ပြီး Chicken (DOC) နှင့် အခြားကုန်ကြမ်းပစ္စည်းများအား ပြည်ပ မှ နှစ်စဉ် တင်သွင်းမည်ဖြစ်ကြောင်း တင်ပြ ထားပါသည်။ |

| | | |
|---|---|---|
| ၁၁။ | စိစစ်တင်ပြချက် | - အဆိုပြုလုပ်ငန်းအတွက်လုပ်ငန်းစီမံချက်အား တင်ပြထားပါသည်။<br>- အဆိုပြုလုပ်ငန်းသည် ဦးစားပေး မြှင့်တင်မည့် ရင်းနှီးမြှုပ်နှံမှုကဏ္ဍတွင် ပါဝင်ပြီး ISIC Code- 0146 တွင် အကျုံးဝင်ပါသည်။<br>-အဆိုပြုလုပ်ငန်းသည် ဇုန်(၂)တွင် ပါဝင်ပါသည်။<br>- အဆိုပြုလုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုပမာဏမှာ US$ ၅.၀၀၀သန်းသာ ရှိသော်လည်း ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်း (Environmental Impact Assessment-EIA) ဆောင်ရွက်ရမည့်လုပ်ငန်းဖြစ်သောကြောင့် ရန်ကုန်တိုင်းဒေသကြီးဦးစီးမှူးရုံးမှ အမှုတွဲအား လွှဲပြောင်းပေးပို့လာခြင်း ဖြစ်ပါသည်။ |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ မရက-၂/ခ-၀၅၀/၂၀၁၉( ၂၉၆ )
ရက်စွဲ ၊ ၂၀၁၉ ခုနှစ် စက်တင်ဘာလ ၂၄ ရက်

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့
တင်ပြသည့် အမှာစာ

အကြောင်းအရာ။ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ISE-OVO Company Limited မှ ဥစား မျိုးကြက်မွေးမြူခြင်းနှင့် ကြက်ဥနှင့် ကြက်သားပေါက် ထုတ်လုပ် ရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်း ကိစ္စ

၁။ မြန်မာနိုင်ငံရှိ OVO Co., Ltd. မှ ၅၅ % နှင့် ဂျပန်နိုင်ငံရှိ ISE ASEAN, INC. မှ ၄၅% အစုရှယ်ယာ ထည့်ဝင်၍ မြန်မာနိုင်ငံတွင် တည်ထောင်ထားသည့် ISE-OVO Co., Ltd. မှ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ဦးပိုင်အမှတ် (၁၅/၂)၊ ကွင်းအမှတ် (၉၉၈-အေ)၊ မကျီးကန်ကွင်း၊ ကလီထော်အရှေ့ကျေးရွာအုပ်စု၊ လှည်းကူးမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေရေိယာ (၇.၈)ကေ နှင့် ဦးပိုင်အမှတ် (N/၂)၊ ကွင်းအမှတ် (၉၆၄)၊ ရွာသစ်ကွင်း၊ ကလီထော်အနောက် ကျေးရွာအုပ်စု၊ လှည်းကူးမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေရေိယာ (၃၀.၀၆) ကေ အနက်မှ (၁၅)ကေ စုစုပေါင်း မြေရေိယာ ၂၂.၈ ကေ(၉၂,၂၆၈.၃၂ စတုရန်းမီတာ)အား ငှားရမ်း၍ ဥစား မျိုးကြက်မွေးမြူခြင်းနှင့် ကြက်ဥနှင့် ကြက်သားပေါက် ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြုချက် တင်ပြလာပါသည်။

၂။ မြေအထောက်အထားအဖြစ် ဦးညွန့်တင်အမည်ဖြင့် ဦးပိုင်အမှတ် (၁၅/၂)ရှိ မြေရေိယာ (၇.၈)ကေအား စိုက်ပျိုးမွေးမြူ ရေးမြေအဖြစ် လယ်ယာမြေကို သတ်မှတ်သည့် နည်းလမ်း အတိုင်း အသုံးပြုခွင့်အမိန့်စာအား လည်းကောင်း၊ ဦးပိုင် အမှတ် (N-၂)ရှိ မြေရေိယာ (၃၀.၀၆)ကေအား မွေးမြူရေး လုပ်ငန်းအတွက် အသုံးပြုခွင့်ပေးသော ခွင့်ပြုမိန့်အား လည်းကောင်း တင်ပြထားပါသည်။ မြေပိုင်ရှင် ဦးညွန့်တင်နှင့် ISE-OVO Co., Ltd. တို့ချုပ်ဆိုမည့် မြေငှား စာချုပ်(မူကြမ်း) များ၊ မြေအထောက်အထားများနှင့် Layout Plan တို့ကိုတင်ပြထားပါသည်။

၃။ မြေငှားသက်တမ်းမှာ ကနဦး ၂၀ နှစ် ဖြစ်ပါသည်။ ဦးပိုင်အမှတ် (၁၅/၂)အတွက် တစ်စတုရန်းမီတာလျှင် US$ ၀.၄၇ နှုန်းဖြင့် မြေ ၃၁,၅၆၅.၅ စတုရန်းမီတာ(၇.၈ ကေ) အတွက် US$ ၁၄,၈၃၀ နှင့် ဦးပိုင်အမှတ် (N -၂)အတွက် တစ်စတုရန်းမီတာလျှင် US$ ၀.၄၇ နှုန်းဖြင့် မြေ ၆၀,၇၀၂.၈ စတုရန်းမီတာ (၁၅ ကေ) အတွက် US$ ၂၈,၅၀၀ ဖြစ်ပါသည်။

၄။ လုပ်ငန်းစီမံကိန်းကာလမှာ ၂၀ နှစ် ဖြစ်ပြီး တည်ဆောက်ရေးကာလမှာ ၃ နှစ် ကြာမြင့် မည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၅။ လုပ်ငန်း၏ စုစုပေါင်း မတည်ငွေရင်းမှာ အမေရိကန်ဒေါ်လာ ၅.၀၀၀ သန်း ဖြစ်ပြီး အောက်ပါအတိုင်း ထည့်ဝင်ထားပါသည်-

| | | ပြည်ပ (US$/သန်း) | ပြည်တွင်း (US$/သန်း) | စုစုပေါင်း (US$/သန်း) |
|---|---|---|---|---|
| (က) | ငွေသား | ၀.၈၂၃ | ၀.၂၂၇ | ၁.၀၅၀ |
| (ခ) | စက်ပစ္စည်းနှင့် စက်ကိရိယာများ (ပြည်ပ) | ၁.၄၂၇ | | ၁.၄၂၇ |
| (ဂ) | မြေငှားရမ်းခ (၂၀ နှစ်) | | ၀.၈၆၆ | ၀.၈၆၆ |
| (ဃ) | အဆောက်အဦ ကုန်ကျစရိတ် | | ၁.၆၅၇ | ၁.၆၅၇ |
| | **စုစုပေါင်း** | ၂.၂၅၀ | ၂.၇၅၀ | ၅.၀၀၀ |

၆။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်း ဝန်ထမ်း(၈၀)ဦး၊ ပြည်ပ ဝန်ထမ်း (၂)ဦး စုစုပေါင်း (၈၂)ဦး ခန့်ထားမည်ဖြစ်ပြီး ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၁၅၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ကျပ် ၅၀၀,၀၀၀ ဖြစ်ပါသည်။ ပြည်ပဝန်ထမ်း၏ လစာမှာ US$ ၁,၅၀၀ ဖြစ်ပါသည်။

၇။ အဆိုပြုလုပ်ငန်းမှ ထွက်ရှိမည့် မျိုးကြက်ပေါက်များအား ပြည်တွင်းတွင် ၁၀၀% ရောင်းချမည်ဖြစ်ပြီး ထုတ်လုပ်မှုနှင့် ရောင်းဈေးနှုန်းမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| စဉ် | အမျိုးအစား | အရေအတွက် (kg) | ရောင်းချမည့်ဈေးနှုန်း (ကျပ်/ kg) |
|---|---|---|---|
| (က) | Eggs (ISE-OVO Brand) | ၁၅၇,၅၀၀ | ၂,၀၇၀ |
| (ခ) | Eggs (ISE Brand) | ၂၃,၄၃၈ | ၂,၈၂၀ |
| (ဂ) | Chicken | ၃၉၁ | ၁,၉၈၀ |
| (ဃ) | Baby Chicken | ၇၀၀,၀၀၀ | ၁,၁၃၀ |
| (င) | Chicken Manure (Raw) | ၁,၉၄၉,၀၀၀ | ၅၅ |

၈။ အဆိုပြုလုပ်ငန်းနှင့် ပတ်သက်၍ သက်ဆိုင်ရာ ဝန်ကြီးဌာနများမှ အောက်ပါအတိုင်း သဘောထား ပြန်ကြားထားပါသည်-

(က) စိုက်ပျိုးရေးမွေးမြူရေးနှင့်ဆည်မြောင်းဝန်ကြီးဌာနမှ အဆိုပြုလုပ်ငန်းသည် ကောင်းမွန်သော မွေးမြူရေးကျင့်စဉ် (Good Animal Husbandry Practice- GAHP) နည်းစနစ်

များနှင့်အညီ မွေးမြူမည်ဆိုပါက ကန့်ကွက်ရန် မရှိပါကြောင်း သဘောထား ပြန်ကြား ထား ပါသည်။ နောက်ဆက်တွဲ (က)

(ခ) **စက်မှုဝန်ကြီးဌာနမှ** ကြက်မွေးမြူခြင်းလုပ်ငန်းမှ ကူးစက်ရောဂါမဖြစ်ပွားစေရန် တိရစ္ဆာန်မွေးမြူရေး နှင့် ကုသရေးဌာနမှ ထုတ်ပြန်ထားသော ညွှန်ကြားချက်များအား လိုက်နာရန် လိုအပ်ပါကြောင်း၊ ကြက်မွေးမြူရာတွင် သန့်ရှင်းသပ်ရပ်စွာ မွေးမြူရန်လိုအပ်ပြီး ရေဆိုးသန့်စင်ခြင်း လုပ်ငန်းများနှင့် ပတ်ဝန်းကျင်သန့်ရှင်းရေး အစီအမံများကိုပါ ရေးဆွဲ ဆောင်ရွက်သွားရန် လိုအပ်ပါ ကြောင်းနှင့် ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ခြင်းအတွက် လူနှင့် သဘာဝပတ်ဝန်းကျင် ထိခိုက်မှု မရှိစေရေးနှင့် စက်ရုံအတွင်းလုပ်ငန်းသားများ၏ ကျန်းမာရေးစောင့်ရှောက်မှုတို့ကို စနစ်တကျ အစီအမံများရေးဆွဲပြီး ကြပ်မတ်ထိန်းသိမ်း ဆောင်ရွက်သင့်ပါကြောင်း သဘောထား ပြန်ကြားထားပါသည်။ နောက်ဆက်တွဲ (ခ)

(ဂ) **ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့မှ** အဆိုပြုလုပ်ငန်းနှင့် ပတ်သက်၍ ကန့်ကွက်ရန် မရှိကြောင်း သဘောထား ပြန်ကြားထားပါသည်။ နောက်ဆက်တွဲ (ဂ)

(ဃ) **ရန်ကုန်တိုင်းဒေသကြီး ညွှန်ကြားရေးမှူးရုံး၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးဦးစီးဌာန မှ** ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း(Environmental Impact Assessment-EIA)ကို ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း အပိုဒ်(၄၉)၊(၆၃) နှင့်အညီ ပြုစုဆောင်ရွက်ရန်နှင့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP) ကို ရေးဆွဲတင်ပြရမည်ဖြစ်ကြောင်း ပြန်ကြားထား ပါသည်။ နောက်ဆက်တွဲ (ဃ)

၉။ ငွေရေးကြေးရေး အထောက်အထားအဖြစ်မြန်မာနိုင်ငံရှိ မြန်မာ့နိုင်ငံခြားကုန်သွယ်မှုဘဏ်တွင် ISE-OVO Co., Ltd. အမည်ဖြင့် US$ ၁၀၀,၀၀၀ ရှိကြောင်း ဘဏ်အထောက် အထား တင်ပြထားပါသည်။

၁၀။ စက်ပစ္စည်း တန်ဖိုး US$ ၁.၄၂၇ သန်းတင်သွင်းမည်ဖြစ်ပြီး Chicken (DOC) နှင့် အခြား ကုန်ကြမ်း ပစ္စည်းများအား ပြည်ပမှ နှစ်စဉ် တင်သွင်းမည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၁။ ဝန်ထမ်းသက်သာချောင်ချိရေးအစီအစဉ်၊ မီးဘေးကြိုတင် ကာကွယ်ရေး စီမံချက်၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေး အစီအစဉ်၊ Waste Water Treatment Plant ၏ Diagram ၊ ဝင်ငွေခွန် ပေးဆောင်မည့် အစီအစဉ်နှင့် CSR Project တို့ကို တင်ပြထားပါသည်။

၁၂။ OVO Co., Ltd. ကုမ္ပဏီ မှတ်ပုံတင် မိတ္တူနှင့် ISE ASEAN, INC. ၏ Certificate of Complete Historical Records များ တင်ပြထားပါသည်။

၁၃။ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၂၀၁၉ ခုနှစ် ဩဂုတ်လ ၂၆ ရက်နေ့တွင် ကျင်းပပြုလုပ်သည့် ၂၉/၂၀၁၉ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပြီးဖြစ်ပါသည်။

စိစစ်တင်ပြချက်

၁၄။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းသည် ဦးစားပေးမြှင့်တင်မည့် ရင်းနှီးမြှုပ်နှံမှု ကဏ္ဍတွင် ပါဝင်ပြီး ISIC Code-0146 တွင် အကျုံးဝင်ပါသည်။

(ခ) အဆိုပြု လုပ်ငန်းဆောင်ရွက်မည့် နေရာသည် ဇုန်(၂)တွင် ပါဝင်ပါသည်။

(ဂ) ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့် ဥပဒေရေးရာဌာနခွဲမှ ကော်မရှင် ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက်(မူကြမ်း)အား ဥပဒေနှင့်ညီညွတ်မှုရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။

ဆုံးဖြတ်ရန်အချက်

၁၅။ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ISE-OVO Co., Ltd. မှ ဥစားမျိုးကြက်မွေးမြူခြင်းနှင့် ကြက်ဥနှင့် ကြက်သားပေါက် ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြ လာခြင်းကိစ္စအပေါ် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ခွင့်ပြုမိန့် ထုတ်ပေးရန် သဘောတူ-မတူ။

၁၄/၉/၁၉

ဥက္ကဋ္ဌ(ကိုယ်စား)
(သန့်စင်လွင်၊ အတွင်းရေးမှူး)

မိတ္တူကို

ရုံးလက်ခံ/မျှောစာတွဲ

**နောက်ဆက်တွဲ (က)**

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ**
**စိုက်ပျိုးရေး၊မွေးမြူရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန**
**ပြည်ထောင်စုဝန်ကြီးရုံး**

MIC, 349/1019

စာအမှတ်၊ ၃/ ၂၀၀၀/ မွေးရေကျေး( ၃၁၀ /၂၀၁၉)
ရက်စွဲ၊ ၂၀၁၉ ခုနှစ်၊ စက်တင်ဘာလ ၉ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ ။ **သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၇-၈-၂၀၁၉ ရက်စွဲပါစာအမှတ်၊ မရက-၂(အ)/ခ-၀၅၀/၂၀၁၉(၂၅၀)

၁။ ISE-OVO Company Limited သည် ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ လှည်းကူးမြို့နယ်ရှိ ကလီထော်အရှေ့ကျေးရွာအုပ်စု၊ မကျီးကန်ကွင်း၊ ကွင်းအမှတ် (၉၉၈-အေ)၊ ဦးပိုင်အမှတ် (၁၅/၂) တွင် မြေဧရိယာ (၇.၈၀) ဧက နှင့် ကလီထော်အနောက်ကျေးရွာအုပ်စု၊ ရွာသစ်ကွင်း၊ ကွင်းအမှတ် (၉၆၄)၊ ဦးပိုင်အမှတ် (N/၂) တွင် မြေဧရိယာ (၃၀.၀၆)ဧက အနက်မှ မြေဧရိယာ(၁၅)ဧက၊ စုစုပေါင်း မြေဧရိယာ (၂၂.၈၀)ဧက (၉၂၂၆၈.၃၂ စတုရန်းမီတာ) ကို ငှားရမ်း၍ ကြက်မွေးမြူခြင်း၊ ကြက်နှင့် ကြက်ဥ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြခဲ့ခြင်းအပေါ် အဆိုပြုလုပ်ငန်းဆောင်ရွက်ခြင်း နှင့်စပ်လျဉ်း၍ ဝန်ကြီးဌာနအနေဖြင့် သဘောထားမှတ်ချက် ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါကိစ္စနှင့်စပ်လျဉ်း၍ မွေးမြူရေးနှင့်ကုသရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး၊ ခရိုင်၊ တိုင်းဒေသကြီးဦးစီးမှူး ခေါင်းဆောင်သောအဖွဲ့၏ ကွင်းဆင်းစစ်ဆေးချက်အရ -

(က) ISE - OVO Co., Ltd သည် ကြက်မွေးမြူခြင်း၊ ကြက်နှင့် ကြက်ဥထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းဆောင်ရွက်ခွင့်ကို ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ မြောက်ပိုင်းခရိုင်၊ လှည်းကူးမြို့နယ်၊ ဦးပိုင်အမှတ်(၁၅/၂)၊ ကွင်းအမှတ်(၉၉၈-အေ)၊ မကျီးကန်ကွင်းရှိ မြေ(၇.၈)ဧကနှင့် ဦးပိုင်အမှတ်(N/၂)၊ ကွင်းအမှတ်(၉၆၄)၊ ရွာသစ်ကွင်း၊ ကလီထော်အနောက်ကျေးရွာအုပ်စုရှိ မြေ(၁၅)ဧက၊ စုစုပေါင်း မြေ(၂၂.၈)ဧက (၉၂၂၆၈.၃၂ စတုရန်းမီတာ)အား ရင်းနှီးမြှုပ်နှံမှုကာလအနေဖြင့် ကနဦး (၂၀)နှစ် နှင့် တည်ဆောက်မှုကာလအား (၃)နှစ် ဆောင်ရွက်သွားမည်ဖြစ်ပါကြောင်း၊

(ခ) အထက်ဖော်ပြသည့် မြေဧရိယာ (၇.၈) ဧက ပေါ်တွင် ဥစားမျိုးကြက်ခြံ (၂) ခြံ တည်ဆောက်မည်ဖြစ်ပြီး လက်ရှိမြေပြင်အခြေအနေတွင် အဆောက်အဦ၊ ခြံစည်းရိုး ဆောင်ရွက်ထားခြင်း မရှိပါကြောင်း၊ ကွင်းပြင်သီးသန့်ဖြစ်ပြီး ခြံအရှေ့မျက်နှာစာတွင် ဘုန်းကြီးကျောင်း၊ အနောက်ဘက်မျက်နှာစာတွင် နွားမွေးမြူရေးခြံ၊ ဘေးနှစ်ဘက် တွင် ကွင်းအလွတ် တည်ရှိပါကြောင်း၊

(ဂ) ဦးပိုင်အမှတ်(N/၂)၊ ကွင်းအမှတ်(၉၆၄)၊ ရွာသစ်ကွင်း၊ ကလီထော်အနောက်ကျေးရွာ အုပ်စု၊ မြေဧရိယာ(၃၀.၀၆)ဧကအနက်မှ (၁၅)ဧကပေါ်တွင် ဥစားကြက်နှင့် ကြက်ဥ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်မည်ဖြစ်ကြောင်း၊ လက်ရှိတွင် ခြံစည်းရိုး၊ အုတ်တံတိုင်းကာရံမှု စတင်ဆောင်ရွက်လျက်ရှိပြီး ရုံးခန်းအဆောက်အဦ၊ အစောင့် အိမ်များ တည်ဆောက်ပြီးစီးပြီဖြစ်ပါကြောင်း၊ အဆိုပါမြေပေါ်တွင် ကောင်ရေ (၅၀၀၀၀) ဆံ့ အလုံပိတ်အအေးခန်းစနစ် ကြက်ခြံအဆောက်အဦ (၄)ခြံ စတင် ဆောက်လုပ်သွားမည်ဖြစ်ပြီး ကြက်ဥထုတ်လုပ်ရေးအဆောက်အဦနှင့် အခြားဆက်စပ် အဆောက်အဦများကို ဂျပန်ဒီဇိုင်းပုံစံအတိုင်း ၂၀၁၉ ခုနှစ်၊ ဒီဇင်ဘာလတွင် စတင် ဆောင်ရွက်မည်ဖြစ်ပြီး သက်ဆိုင်ရာ မြေအထောက်အထား ခွင့်ပြုမိန့်များကိုလည်း စိစစ်တွေ့ရှိရပါကြောင်း၊

(ဃ) ဝန်ထမ်းအင်အားအနေဖြင့် ဝန်ထမ်း (၈၂) ဦး ဖြင့် လုပ်ငန်းဆောင်ရွက်မည်ဖြစ်ပြီး ပြည်တွင်းတွင် ၁၀၀ ရာခိုင်နှုန်းဖြင့် ရောင်းချမှုစနစ်ဆောင်ရွက်၍ ထုတ်လုပ်မှု (၂)နှစ် မြောက်တွင် Eggs (ISE-OVO Brand) Eggs (ISE Brand)၊ Chicken၊ Baby Chicken၊ Chicken Manure (Raw) ကို ရောင်းချမည်ဖြစ်ပါကြောင်း၊ ရင်းနှီးမြှုပ် နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၏ ၂၁-၅-၂၀၁၉ ရက်တွင် အများနှင့်မသက် ဆိုင်သောကုမ္ပဏီအဖြစ် ဖွဲ့စည်းမှတ်ပုံတင်ပြီးဖြစ်ပါကြောင်း စိစစ်တင်ပြလာပါသည်။

၃။ သို့ဖြစ်ပါ၍ ISE – OVO Co., Ltd သည် ရန်ကုန်တိုင်းဒေသကြီး၊ လှည်းကူးမြို့နယ်၊ ဦးပိုင် အမှတ် (၁၅/၂) ရှိ မြေဧရိယာ (၇.၈) ဧကနှင့် ဦးပိုင်အမှတ် (N/၂) ရှိ မြေဧရိယာ (၃၀.၀၆)ဧက အနက်မှ (၁၅)ဧက၊ စုစုပေါင်းမြေဧရိယာ (၂၂.၈) ဧက အား ငှားရမ်း၍ ကြက်မွေးမြူခြင်း၊ ကြက်နှင့် ကြက်ဥထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းသည် မြေနေရာလုံလောက်မှုရှိခြင်း၊ ဘေးပတ်ဝန်းကျင်မှ လူနေအိမ်များနှင့် နီးကပ်မှုမရှိခြင်း၊ သီးခြားတည်ရှိခြင်း၊ သန့်ရှင်းပြီးကျန်းမာရေးနှင့် ညီညွတ် သောစားသောက် ကုန်များကဏ္ဍ၊ စီးပွားရေးကဏ္ဍများဖွံ့ဖြိုးတိုးတက်မှုကိုအထောက်အကူရရှိမည်

ဖြစ်ခြင်း၊ ဇီဝလုံခြုံမှုကောင်းမွန်ခြင်းတို့ကြောင့် ကောင်းမွန်သောမွေးမြူရေးကျင့်စဉ် (Good Animal Husbandry Practice-GAHP) နည်းစနစ်များနှင့်အညီ မွေးမြူမည်ဆိုပါက စိုက်ပျိုးရေး၊ မွေးမြူရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန အနေဖြင့် ကန့်ကွက်ရန်မရှိပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
လှထွန်း၊ဒုတိယအမြဲတမ်းအတွင်းဝန်

မိတ္တူ-

ညွှန်ကြားရေးမှူးချုပ်၊ မွေးမြူရေးနှင့်ကုသရေးဦးစီးဌာန
ရုံးလက်ခံ
မျှော

နောက်ဆက်တွဲ (ခ)

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
## စက်မှုဝန်ကြီးဌာန

စာအမှတ်၊ ၁၅- စမ(၂) ၂၀၁၈-၂၀၁၉( ၄၀၇၈ )

ရက်စွဲ၊ ၂၀၁၉ ခုနှစ်၊ စက်တင်ဘာလ ၅၆ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ သဘောထားမှတ်ချက် ပြန်ကြားခြင်း

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၇.၈.၂၀၁၉ ရက်စွဲပါစာအမှတ်၊ မရက- ၂ / ခ - ၀၅၀ / ၂၀၁၉ ( ၂၅၁ )

၁။ ISE – OVO Company Limited . မှ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ လှည်းကူးမြို့နယ်၊ ကလီထော်အရှေ့ကျေးရွာအုပ်စု၊ မကျီးကန်ကွင်း၊ ကွင်းအမှတ်(၉၉၈-အေ)၊ ဦးပိုင်အမှတ်(၁၅/၂)ရှိ မြေရီယာ(၇.၈)ကေနှင့် ရန်ကုန်တိုင်းဒေသကြီး၊ လှည်းကူးမြို့နယ်၊ ကလီထော်အနောက်ကျေးရွာအုပ်စု၊ ရွာသစ်ကွင်း၊ ကွင်းအမှတ်(၉၆၄)၊ ဦးပိုင်အမှတ်(N/၂) ရှိ မြေရီယာ(၃၀.၀၆)ကေအနက်မှ မြေ(၁၅)ကေ၊ စုစုပေါင်းမြေရီယာ(၂၂.၈)ကေ (၉၂၂၆၈.၃၂ စတုရန်းမီတာ)တွင် ငှားရမ်း၍ ကြက်မွေးမြူခြင်း၊ ကြက်နှင့် ကြက်ဥ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် လုပ်ငန်းနှင့်စပ်လျဉ်း၍ တင်သွင်းမည့်စက်ပစ္စည်းများသည် လုပ်ငန်းသဘာဝနှင့် ကိုက်ညီခြင်းရှိ/မရှိအပေါ် သဘောထားမှတ်ချက်ပြန် ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံခဲ့ပါသည်။

၂။ အဆိုပါ ကုမ္ပဏီမှ ဆောင်ရွက်မည့် လုပ်ငန်းများနှင့်ပတ်သက်၍ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) ကြက်မွေးမြူခြင်း၊ ကြက်ဥထုတ်လုပ်ခြင်းလုပ်ငန်းများအား ဂျပန်နည်းပညာဖြင့် ဆောင်ရွက်သွားမည် ဖြစ်ပါသည်။

( ခ ) ကြက်မွေးမြူခြင်း၊ ကြက်နှင့် ကြက်ဥထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအတွက် အသုံးပြုမည့် စက်နှင့်စက်ပစ္စည်း(7)Items (8)Sets၊ (1)Item (4)Units တို့အား ဂျာမနီနိုင်ငံနှင့် မလေးရှားနိုင်ငံများမှ တင်သွင်းမည် ဖြစ်ပါသည်။

( ဂ ) တင်သွင်းမည့် စက်နှင့် စက်ပစ္စည်းများမှာ ကြက်မွေးမြူခြင်း၊ ကြက်နှင့် ကြက်ဥ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအတွက် လိုအပ်ကြောင်း စိစစ်တွေ့ရှိရပြီး Energy သုံးစွဲမှုနည်းသော စက်ပစ္စည်းများဖြစ်ရန်နှင့် ထိခိုက်မှုနည်းစေရန် အစီအမံများ ပါရှိရန် လိုအပ်ပါသည်။

(ဃ) ကြက်မွေးမြူခြင်းလုပ်ငန်းမှ ကူးစက်ရောဂါမဖြစ်ပွားစေရန် တိရစ္ဆာန်မွေးမြူရေးနှင့် ကုသရေးဦးစီးဌာနမှ ထုတ်ပြန်ထားသော ညွှန်ကြားချက်များအား လိုက်နာရန် လိုအပ်ပါသည်။

( င ) သန့်ရှင်းလတ်ဆတ်ပြီး ကျန်းမာရေးနှင့်ညီညွတ်သော ကြက်ဥများ ထုတ်လုပ်ဖြန့်ဖြူးနိုင်ရေး ဆောင်ရွက်သွားရန် လိုအပ်ပါသည်။

( စ ) ကြက်မွေးမြူရာတွင် သန့်ရှင်းသပ်ရပ်စွာ မွေးမြူရန်လိုအပ်ပြီး ရေဆိုးသန့်စင်ခြင်းလုပ်ငန်းများနှင့် ပတ်ဝန်းကျင်သန့်ရှင်းရေးအစီအမံများကိုပါ ရေးဆွဲဆောင်ရွက်သွားရန် လိုအပ်ပါသည်။

(ဆ) ထုတ်လုပ်မှုလုပ်ငန်းဆောင်ရွက်ခြင်းအတွက် လူနှင့် သဘာဝပတ်ဝန်းကျင် ထိခိုက်မှုမရှိစေရေးနှင့် စက်ရုံအတွင်း လုပ်သားများ၏ ကျန်းမာရေးစောင့်ရှောက်မှုတို့ကို စနစ်တကျ အစီအမံများရေးဆွဲပြီး ကြပ်မတ်ထိန်းသိမ်းဆောင်ရွက်သင့်ပါသည်။

၃။ သို့ပါ၍ ISE – OVO Company Limited . မှ ကြက်မွေးမြူခြင်း၊ ကြက်နှင့် ကြက်ဥ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းနှင့်စပ်လျဉ်း၍ တင်သွင်းမည့် စက်ပစ္စည်းများသည် လုပ်ငန်းသဘာဝနှင့် ကိုက်ညီမှုရှိပါကြောင်းနှင့် အထက်ပါ လိုအပ်ချက်များ ဖြည့်ဆည်းဆောင်ရွက်မည်ဆိုပါက ဤဝန်ကြီးဌာန အနေဖြင့် **ကန့်ကွက်ရန်မရှိပါကြောင်း** ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
( ကိုကိုလွင်၊ အမြဲတမ်းအတွင်းဝန် )

မိတ္တူကို

စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန
ရုံးလက်ခံ၊ မျှောစာတွဲ

နောက်ဆက်တွဲ (ဂ)

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
## တိုင်းဒေသကြီးအစိုးရအဖွဲ့
## ရန်ကုန်တိုင်းဒေသကြီး

စာအမှတ်၊ ၃ / ၆ - ၃ (၇) / တိုင်းရင်းသား
ရက်စွဲ၊ ၂၀၁၉ ခုနှစ်၊ စက်တင်ဘာလ ၂၃ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံလာခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၇.၈.၂၀၁၉ ရက်စွဲပါစာအမှတ်၊ မရက - ၂ / ခ - ၀၅၀/ ၂၀၁၉ (၂၅)

၁။ မြန်မာနိုင်ငံရှိ OVO Co.,Ltd မှ ၅၅ % နှင့် ဂျပန်နိုင်ငံရှိ ISE ASEAN, INC. မှ ၄၅ % အစုရှယ်ယာထည့်ဝင်၍ မြန်မာနိုင်ငံတွင် တည်ထောင်ထားသည့် ISE-OVO Company Limited မှ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ဦးပိုင်အမှတ်(၁၅/၂)၊ ကွင်းအမှတ်(၉၉၈-အေ)၊ မကျီးကန်ကွင်း၊ ကလီထော် အရှေ့ကျေးရွာအုပ်စု၊ လှည်းကူးမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေဧရိယာ(၇.၈)ကေနှင့် ဦးပိုင်အမှတ်(N/၂)၊ ကွင်းအမှတ်(၉၆၄)၊ ရွာသစ်ကွင်း၊ ကလီထော်အနောက်ကျေးရွာအုပ်စု၊ လှည်းကူးမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေဧရိယာ(၃၀.၀၆)ကေအနက်မှ (၁၅)ကေ စုစုပေါင်း မြေဧရိယာ ၂၂.၈ ကေ (၉၂၂၆၈.၃၂ စတုရန်းမီတာ)အား ငှားရမ်း၍ ကြက်မွေးမြူခြင်း၊ ကြက်နှင့် ကြက်ဥထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့် ပြုပါရန်တင်ပြလာမှုအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့်ညှိနှိုင်းလာ ပါသည်။

၂။ အဆိုပါကိစ္စနှင့်စပ်လျဉ်း၍ ၁၉.၉.၂၀၁၉ ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၃၇/၂၀၁၉)၊ ဆုံးဖြတ်ချက်အပိုဒ်(၅၃)အရ ကန့်ကွက်ရန်မရှိကြောင်း သဘောထားပြန်ကြားအပ်ပါသည်။

ဝန်ကြီးချုပ် (ကိုယ်စား)

( နော်ပန်းသဉ္ဇာမျိုး၊ ကရင်တိုင်းရင်းသားလူမျိုးရေးရာဝန်ကြီး)

မိတ္တူကို

တိုင်းဒေသကြီးဦးစီးမှူး၊ ရန်ကုန်တိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
ရန်ကုန်မြောက်ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
လှည်းကူးမြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန

နောက်ဆက်တွဲ (ဃ)



တိုင်းဒေသကြီးညွှန်ကြားရေးမှူးရုံး
ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ရန်ကုန်တိုင်းဒေသကြီး
ရန်ကုန်မြို့
စာအမှတ်၊ ရက-၁/၃/၄(အီးအိုင်အေ)(၁၄၄၉/၂၀၁၉)
ရက်စွဲ၊ ၂၀၁၉ ခုနှစ်၊ ဩဂုတ်လ ၂ ရက်

သို့

အတွင်းရေးမှူး
ရန်ကုန်တိုင်းဒေသကြီး ရင်းနှီးမြှုပ်နှံမှုကော်မတီ

အကြောင်းအရာ။ Ise-Ovo Company Limited ၏ ကြက်မွေးမြူခြင်း၊ ကြက်နှင့်ကြက်ဥ ထုတ်လုပ်ရောင်းချခြင်းနှင့် ဆက်စပ်လုပ်ငန်းများဆောင်ရွက်ခြင်းနှင့်ပတ်သက်၍ ပတ်ဝန်းကျင်ဆိုင်ရာ သဘောထားမှတ်ချက်ပြန်ကြားခြင်း

ရည်ညွှန်းချက်။ ရန်ကုန်တိုင်းဒေသကြီး ရင်းနှီးမြှုပ်နှံမှုကော်မတီ၏ ၂၆-၇-၂၀၁၉ ရက်စွဲပါ စာအမှတ်၊ ရကတ/ရနမ-၂/၂၀၁၉ (၅၇၇)

၁။ အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ Ise-Ovo Company Limited သည် ရန်ကုန်တိုင်းဒေသကြီး၊ လှည်းကူးမြို့နယ်၊ ကလီထော်(အရှေ့)ရပ်ကွက်၊ မကျီးကန်ကွင်း၊ ကွင်းအမှတ် (၉၉စ-အေ)၊ ဦးပိုင်အမှတ်(၁၅/၂) နှင့် ရန်ကုန်တိုင်းဒေသကြီး၊ လှည်းကူးမြို့နယ်၊ ကလီထော် (အနောက်) ရပ်ကွက်၊ ရွာသစ်ကွင်း၊ ကွင်းအမှတ် (၉၆၄)၊ ဦးပိုင်အမှတ်(N/၂) တို့တွင် ဖက်စပ်ရင်းနှီးမြှုပ်နှံမှုဖြင့် အကောင်အထည်ဖော် ဆောင်ရွက်မည့် ကြက်မွေးမြူခြင်း၊ ကြက်နှင့်ကြက်ဥ ထုတ်လုပ်ရောင်းချခြင်းနှင့် ဆက်စပ်လုပ်ငန်းများ ဆောင်ရွက်ခြင်း နှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု နည်းဥပဒေအပိုဒ် - ၇၁ အရ အတည်ပြုလွှာအား လက်ခံခြင်း၊ ငြင်းပယ်ခြင်းကို ရင်းနှီးမြှုပ်နှံသူထံသို့ ပြန်ကြားရန်နှင့် နည်းဥပဒေအပိုဒ် - ၇၂ (ခ) အရ အတည်ပြုမိန့် ထုတ်ပေးနိုင်ရေးအတွက် ပတ်ဝန်းကျင်ဆိုင်ရာ သဘောထား မှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် တင်ပြတောင်းခံလာပါသည်။

၂။ အဆိုပြုပေးပို့လာသော ရင်းနှီးမြှုပ်နှံမှုဆိုင်ရာ စီမံကိန်းအဆိုပြုလွှာအား စိစစ်ရာတွင် အောက်ပါအချက်များကို စိစစ်တွေ့ရှိရပါသည်-

(က) အဆိုပြုလုပ်ငန်းအတွက် ရင်းနှီးမြှုပ်နှံမှုကာလမှာ နှစ် (၂၀) ဖြစ်ပြီး တည်ဆောက်ပြင်ဆင်ရေးကာလမှာ (၃) နှစ်ဖြစ်ကြောင်း၊

(ခ) အဆိုပြုလုပ်ငန်းသည် OVO COMPANY LIMITED မှ မြန်မာနိုင်ငံသား (၃) ဦးနှင့် ISEASEAN INC. မှ ဂျပန်နိုင်ငံသား (၂) ဦးတို့ ပူးပေါင်း၍ အမေရိကန်ဒေါ်လာ (၅) သန်းဖြင့် ဖက်စပ်ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းဖြစ်ကြောင်း၊

(ဂ) အဆိုပြုလုပ်ငန်းသည် ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာနမှ ၂၁-၅-၂၀၁၉ ရက်နေ့တွင် ကုမ္ပဏီမှတ်ပုံတင်လက်မှတ်အမှတ် ၁၂၀၄၀၂၀၈၀ ဖြင့်ရရှိထားကြောင်း၊

(ဃ) အဆိုပြုစီမံကိန်းလုပ်ငန်းအား မြေဧရိယာ ၇.၈ ဧက (၃၁၅၆၅.၈၂ စတုရန်းမီတာ) နှင့် ၁၅ ဧက (၆၀၇၀၃.၅ စတုရန်းမီတာ) စုစုပေါင်း ၂၂.၈ ဧက (၉၂,၂၆၉.၃၂ စတုရန်းမီတာ) ပေါ်တွင် (၆၇ မီတာ × ၇ မီတာ) ပတ်လည်ရှိသော ကြက်သားပေါက်ခြံ အဆောက်အဦ (၁) လုံး၊ (၉၁ မီတာ × ၇ မီတာ) ပတ်လည်ရှိသော ကြက်ခြံ အဆောက်အဦ (၁) လုံး၊ (၃၀ မီတာ × ၁၅ မီတာ) ပတ်လည်ရှိသော ကြက်ဥ သိုလှောင်ရုံ အဆောက်အဦ (၁) လုံး၊ (၃၀ မီတာ × ၁၅ မီတာ) ပတ်လည်ရှိသော အသားတိုးကြက်သိုလှောင်ရုံ အဆောက်အဦ (၄) လုံး၊ (၄၀ မီတာ × ၃၀ မီတာ) ပတ်လည်ရှိသော GP အဆောက်အဦ (၁) လုံး၊ (၄၀ မီတာ × ၂၉.၅ မီတာ) ပတ်လည်ရှိသော မြေဆွေးသိုလှောင်ရုံ အဆောက်အဦ (၁) လုံး၊ (၄၀ မီတာ × ၈.၅ မီတာ) ပတ်လည်ရှိသော လူနေဆောင် အဆောက်အဦ (၁) လုံး၊ လူနေဆောင် အဆောက်အဦ (၁) လုံး ဆောက်လုပ်၍ မျိုးကြက်မွေးမြူ ထုတ်လုပ်ခြင်းလုပ်ငန်း၊ ကြက်မွေးမြူခြင်းနှင့် ကြက်ဥထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်မည်ဖြစ်ကြောင်း၊

(င) ကြက်ခြံ (၁) ခြံလျှင် အကောင်ရေ (၅၀,၀၀၀) ဆံ့သော ကြက်ခြံ (၄) ခြံအား ပထမ စီမံကိန်းအဖြစ် ဆောက်လုပ်၍ မွေးမြူလုပ်ကိုင်သွားမည်ဖြစ်ကြောင်း၊

(စ) အဆိုပြုလုပ်ငန်းအတွက် လိုအပ်သော ကြက်ပေါက်ကောင်ရေ (၁၂,၀၀၀) ကို နယ်သာလန်နိုင်ငံမှ တင်သွင်းမည်ဖြစ်ပြီး ကြက်စာများကို မြန်မာနိုင်ငံရှိ Dehart ကုမ္ပဏီမှ ဝယ်ယူ၍ ဂျပန်နိုင်ငံမှ တင်သွင်းလာသည့် ဆေးအရောအနှောဖြင့် ရောနှော၍ ရရှိလာသော ကြက်စာများကို ကျွေးမွေး၍ လုပ်ကိုင်ဆောင်ရွက်မည် ဖြစ်ကြောင်း၊

(ဆ) အဆိုပြုလုပ်ငန်းမှ ထုတ်လုပ်မှုအနေဖြင့် ပထမနှစ်မှ (၁၀) နှစ်အတွင်း ISE- OVO Brand ကြက်ဥ၊ ISE Brand ကြက်ဥ၊ ကြက်သား၊ ကြက်သားပေါက်၊ ကြက်ချေး များကို တစ်နှစ်လျှင် (၁၈၇,၇၅၀) ကီလိုဂရမ်မှ (၄,၁၉၆,၀၀၇) ကီလိုဂရမ် (တန်ချိန်အားဖြင့် (၂၀၆.၉၅ တန်မှ ၄,၆၂၅.၃၀၅ တန်)အထိ တိုးမြှင့်ထုတ်လုပ်၍ ရခိုင်းနှုန်းပြည့် ပြည်တွင်း၌ ရောင်းချသွားမည်ဖြစ်ကြောင်း၊

(ဈ) ကြက်မွေးမြူခြင်းနှင့် မျိုးကြက်ထုတ်လုပ်မွေးမြူခြင်းလုပ်ငန်းအတွက် ကြက်များကို အအေးပေးစနစ်ဖြင့် သန့်ရှင်းသပ်ရပ်စွာ မွေးမြူပြီး ပတ်ဝန်းကျင်သန့်ရှင်းရေး အစီအစဉ်များ ရေးဆွဲဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊

(ည) လုပ်ငန်းဆောင်ရွက်ရာတွင် လိုအပ်သည့် ကြက်ခြံထဲတွင် မွေးမြူရေးအတွက် အသုံးပြုမည့် စက်ပစ္စည်း(၈)မျိုးကို ဂျာမဏီ၊ အီတလီ၊ မလေးရှားနိုင်ငံတို့မှ တင်သွင်းတပ်ဆင်အသုံးပြုသွားမည်ဖြစ်ကြောင်း၊

(ဋ) နိုင်ငံခြားသား ကျွမ်းကျင်ပညာရှင်ဝန်ထမ်း (၂)ဦးနှင့် နိုင်ငံသား(ပြည်တွင်း) ဝန်ထမ်းများကို (၈၀) ဦးအားခန့်အပ်ပြီး လုပ်ငန်းဆောင်ရွက်မည်ဖြစ်ကြောင်း၊

(ဌ) မီးဘေးအန္တရာယ်ကာကွယ်ရေး အစီအစဉ်၊ ဝန်ထမ်းများအတွက် ကျန်းမာရေးစောင့်ရှောက်မှု အစီအစဉ်နှင့် လုပ်ငန်းခွင်သက်သာချောင်ချိရေး အစီအစဉ်များကိုလည်း ထားရှိဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊

(ဍ) လုပ်ငန်းမှ နှစ်စဉ်ရရှိလာမည့် အသားတင်အမြတ်ငွေ၏ (၂) ရာခိုင်နှုန်းကို လူမှုရေးဆိုင်ရာ တာဝန်ခံမှု (Corporate Social Responsibility – CSR) လုပ်ငန်းများတွင် ထည့်ဝင် အသုံးပြုသွားမည်ဖြစ်ကြောင်း။

၃။ ရင်းနှီးမြှုပ်နှံရန် အဆိုပြုလာသော Ise-Ovo Company Limited ၏ ကြက်မွေးမြူခြင်း၊ ကြက်နှင့်ကြက်ဥ ထုတ်လုပ်ရောင်းချခြင်းနှင့် ဆက်စပ်လုပ်ငန်းများဆောင်ရွက်ခြင်းနှင့်စပ်လျဉ်း၍ အောက်ဖော်ပြပါ ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုများ ဖြစ်ပေါ်လာနိုင်ကြောင်း သုံးသပ်တွေ့ရှိရပါသည်-

(က) ကုန်ကြမ်းများကိုထုတ်လုပ်ခြင်း လုပ်ငန်းအဆင့်ဆင့်မှ စွန့်ပစ်ပစ္စည်းများ ထွက်ရှိခြင်းနှင့်သန့်စင်ဆေးကြောခြင်းလုပ်ငန်းမှ ရေဆိုးများထွက်ရှိခြင်းတို့ကြောင့် ပတ်ဝန်းကျင်ရှိရေ၊ လေ၊ မြေ ညစ်ညမ်းမှုများဖြစ်ပေါ်စေနိုင်ခြင်း၊

(ခ) လုပ်ငန်းနှင့်စပ်လျဉ်း၍ လုပ်ငန်းများဆောင်ရွက်ရာတွင် လုပ်ငန်းခွင်အတွင်း စူးရှအနံ့နှင့်အခိုးအငွေ့များထွက်ရှိခြင်း၊ လုပ်ငန်းအဆင့်တိုင်း စက်များအသုံးပြု ဆောင်ရွက်ခြင်းနှင့် စက်ပစ္စည်းများ ချို့ယွင်းခြင်းကြောင့် အခန်းအတွင်း/ အပြင် လေထုညစ်ညမ်းမှုဖြစ်ပေါ်နိုင်ခြင်း၊ လုပ်ငန်းခွင်ဝန်ထမ်းများ၏ ကျန်းမာရေးထိခိုက်မှုများ ဖြစ်ပေါ်နိုင်ခြင်းစသည့် ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှု ပြဿနာများဖြစ်ပေါ်စေနိုင်ခြင်း၊

(ဂ) ကုန်ကြမ်းများအား စနစ်တကျသိုလှောင်ခြင်းမရှိပါက အနံ့အသက်များထွက်ရှိခြင်းနှင့် လုပ်ငန်းလည်ပတ်ခြင်းမှ ထွက်ရှိလာသည့် ဆူညံသံများနှင့် အသံညစ်ညမ်းမှုများကြောင့် အလုပ်သမားများနှင့် စီမံကိန်းစက်ရုံဧရိယာအနီးတဝိုက်ရှိ ပြည်သူများ၏ ကျန်းမာရေးအား ထိခိုက်မှုဖြစ်စေနိုင်ခြင်း။

၄။ သို့ဖြစ်ပါ၍ Ise-Ovo Company Limited ၏ ကြက်မွေးမြူခြင်း၊ ကြက်နှင့်ကြက်ဥ ထုတ်လုပ်ရောင်းချခြင်းနှင့် ဆက်စပ်လုပ်ငန်းများဆောင်ရွက်ခြင်းနှင့်ပတ်သက်၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ဆောင်ရွက်ရမည့် လုပ်ငန်းများကို အောက်ပါအတိုင်း သဘောထားမှတ်ချက်ပြန်ကြားအပ်ပါသည် -

(က) အဆိုပြုလုပ်ငန်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် ထိခိုက်မှု အနည်းဆုံးဖြစ်စေသည့် နည်းစနစ်များကို အသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးဆိုင်ရာ တာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility - CSR) အတွက် နှစ်စဉ် အသားတင်အမြတ်ငွေ၏ ၂ ရာခိုင်နှုန်းကို အသုံးပြုခြင်း အပါအဝင် ဆောင်ရွက်သွားမည့် ကတိကဝတ်များကို တိတိကျကျ လိုက်နာ အကောင်အထည်ဖော်ဆောင်ရွက်ရန်၊

(ခ) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment - EIA) ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း အပိုဒ် (၄၉)၊ (၆၃) တို့နှင့်အညီဆောင်ရွက်ရန်၊

(ဂ) စီမံကိန်းဆောင်ရွက်မည့် လုပ်ငန်းရှင်အနေဖြင့် ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်း (Environmental Impact Assessment - EIA) အစီရင်ခံစာရေးသားပြုစုရာတွင် ပြဋ္ဌာန်း ထုတ်ပြန်ထားပြီးဖြစ်သော ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေများ၊ ပတ်ဝန်းကျင် ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းနှင့် အမျိုးသား ပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင် ဖော်ပြပါရှိသည့် လိုက်နာဆောင်ရွက် ရမည့်အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရန်၊

(ဃ) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းအပိုဒ် (၄၅) နှင့် (၄၆) တို့အရ စီမံကိန်းအဆိုပြုသူသည် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းလုပ်ငန်း (EIA) မစတင်မီ အဆိုပါလုပ်ငန်းကို ဆောင်ရွက်မည့် တတိယပုဂ္ဂိုလ် (သို့မဟုတ်) အဖွဲ့အစည်း နှင့်စပ်လျဉ်း၍ သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၏ ဆုံးဖြတ်ချက်ရယူရန်၊

(င) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းအပိုဒ် (၄၇) မှ အပိုဒ် (၅၄) အထိ ဖော်ပြချက်အရ စီမံကိန်းအဆိုပြုသူသည် နယ်ပယ်အတိုင်းအတာ သတ်မှတ်ခြင်းအစီရင်ခံစာနှင့် ဆောင်ရွက်မည့် လုပ်ငန်းတာဝန်များကို လမ်းညွှန်ချက် များနှင့်အညီ လေ့လာဆန်းစစ်၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ သယံဇာတ

နှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနသို့ တင်ပြအတည်ပြုချက် ရယူရန်၊

(စ) အတည်ပြုပြီးသော နယ်ပယ်အတိုင်းအတာ သတ်မှတ်ခြင်းအစီရင်ခံစာပါ အချက်အလက်များအပေါ် အခြေခံ၍ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း အပိုဒ် (၆၃) ပါအချက်နှင့်အညီ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း အစီရင်ခံစာ (EIA) ကို ရေးဆွဲရန်၊

(ဆ) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (EIA) အစီရင်ခံစာတွင် လေ့လာဆန်းစစ်မှု ရလဒ်များကို အခြေခံ၍ စီမံကိန်းဆောင်ရွက်မှုကြောင့် ပတ်ဝန်းကျင်၊ လူမှုရေး ထိခိုက်မှု မဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် လုပ်ငန်း ဆောင်ရွက်မည့်အစီအစဉ်၊ စွန့်ပစ်ပစ္စည်းစီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြည့်လေ့လာ မည့် အစီအစဉ်၊ ပတ်ဝန်းကျင် ထိခိုက်မှုလျော့ပါးရေးဆောင်ရွက်မည့် လုပ်ငန်းများ အတွက် သုံးစွဲမှုရန်ပုံငွေစသည်တို့ ပါဝင်သည့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan - EMP) ကို ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်း လုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ ရေးဆွဲတင်ပြရန် နှင့်စီမံချက်ပါအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်၊

(ဇ) သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်စပ်လျဉ်း၍ ပတ်ဝန်းကျင်ညစ်ညမ်းမှု မရှိစေရန် သန့်စင်ခန်းများ၊ အမှိုက်ပုံးများအား အလုံအလောက်ထားရှိခြင်း၊ စက်ရုံပတ်ဝန်းကျင် သန့်ရှင်းကောင်းမွန်ရေးအတွက် သင့်တော်မည့် ရေစီးရေလာစနစ်များ၊ ရေနုတ်မြောင်း များကို ရေစီးရေလာကောင်းမွန်ရေးအတွက် ပြုပြင်ခြင်း၊ စွန့်ပစ်ပစ္စည်းအစီအမံများ၊ စက်ရုံ ပတ်ဝန်းကျင် စိမ်းလန်းစိုပြည်ရေးအတွက် သစ်ပင်များ စိုက်ပျိုးထားရှိရန်၊ လုပ်ငန်းခွင် လေကောင်းလေသန့်ရရှိစေရေး စီမံဆောင်ရွက်ရန်နှင့် စွန့်ပစ်ပစ္စည်း များကို အမျိုးအစားအလိုက် သတ်မှတ်နေရာများတွင် စွန့်ပစ်မှုစနစ်များထားရှိရန်၊

(ဈ) လုပ်ငန်းအဆင့်တိုင်းမှ ထွက်ရှိလာမည့် စွန့်ပစ်ရေဆိုးများကို စွန့်ပစ်ရေဆိုးသန့်စင် သည့် စနစ်တည်ထောင်၍ အမျိုးသားပတ်ဝန်းကျင်အရည်အသွေး (ထုတ်လွှတ်မှု) စံချိန်စံညွှန်း လမ်းညွှန်ချက်များတွင် သတ်မှတ်ထားသည့် စံချိန်စံညွှန်းနှင့်အညီ စနစ်တကျသန့်စင် စွန့်ပစ်သွားရန်၊

(ည) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (EIA) အစီရင်ခံစာတင်ပြရာတွင် တင်ပြရမည့် အစီအစဉ် အလိုက် လိုအပ်သည့် ပုံစံများဖြည့်စွက်၍ သယံဇာတနှင့်သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာနသို့ ပူးတွဲတင်ပြရန်၊

(ဌ) ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် လုပ်ငန်းဆောင်ရွက်မည့် နေရာဒေသတွင် နေထိုင်သော ဒေသခံပြည်သူများ၏ ဆန္ဒနှင့်သဘောထားများကိုလည်း ရယူဆောင်ရွက်ရန်။

(ခင်သီတာတင်)<br>
ညွှန်ကြားရေးမှူး<br>
ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန<br>
ရန်ကုန်တိုင်းဒေသကြီး

မိတ္တူကို

ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ရေးဌာနခွဲ၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး

ရုံးလက်ခံ၊ မျှောစာတွဲ